




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မ.န.သ – ၁၁၃/၉၈ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး လောက်တား

(ခ) အဘအမည် ဦး စိန်ခိုင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/လရန(နိုင်)၀၉၈၉၂၄

(ဃ) နေရပ်လိပ်စာ အမှတ်–၆၈၊ ၁၆၆လမ်း၊ တာမွေကြီး(ခ)ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ခိုင်ဖြိုးဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Kai Phyo Construction Co., Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား လုံးဂျယ်သီးများ (LONGAN FRUITS) စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရေမအောင်းတိရစ္ဆာန်အစားအစာအသုံးချရေးနှင့် ပြုစုခြံစိုက်စခန်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၇၁.၂ သန်း
(ကျပ်နှစ်ရာ့ခုနစ်ဆယ့်တစ်သန်း၊ နှစ်သိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃/၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တပို့တွဲ လဆန်း ၁ ရက်။
(၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် မွေးမြူရေး နှင့် ရေ လုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာနပိုင် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရေမအင်း၊ တိရစ္ဆာန် အစားအစာ အသုံးချရေး နည်းပြ အခြေစိုက်စခန်း ရှိ မြေ(၃၁၁)ဧက (၁၂၅၈၅၇၃.၄ စတုရန်းမီတာ) အား ငှါးရမ်း၍ လုံးရယ်သီးများ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက် အား (၂၆-၁၂-၉၇) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၁/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ (၈-၁-၉၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) အား လုံးရယ်သီးများ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၃/၉၈ ကို ထုတ်ပေး လိုက်သည်။

၂။ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ အသီး စတင် ထွက်ရှိသည့် (၅)နှစ်မြောက် ကာလမှ တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏

အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(င) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(စ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေ စနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက် အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ ပြည်ပတင်ပို့မှုမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရန်။

၄။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပ တင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှားချထားသူ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန နှင့် အငှား ချထားခြင်း ခံရသူ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) တို့ အကြား ချုပ်ဆိုသော မြေငှါး သဘောတူစာချုပ် လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤ ကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

၆။ မွေးမြူရေး နှင့် ရေ လုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန နှင့် နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)တို့ ချုပ်ဆိုမည့် မြေငှါးရမ်းခြင်း သဘောတူစာချုပ်၏ ငှါးရမ်းခြင်း ကာလမှာ စာချုပ် ချုပ်ဆိုသည့် နေ့မှစ၍ (၂၅)နှစ် ဖြစ်ပြီး ယင်းကာလထက် ကျော်လွန်ပါက တစ်ကြိမ်လျှင် (၅)နှစ် သက်တမ်းဖြင့် နှစ်ကြိမ်ထိ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက်ဖြင့် တိုးမြှင့် သတ်မှတ်နိုင်သည်။

၇။ မြေငှါးစာချုပ် လက်မှတ် ရေးထိုးသည့် နေ့တွင် Signature Bonus အဖြစ် ငွေကျပ် ၃သန်း (ကျပ် သုံးသန်းတိတိ) ကို မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာနသို့ ပေးသွင်းရမည်။

၈။ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် ငှါးရမ်းမြေ (၃၁၁)ဧက အတွက် တစ်ဧကလျှင် တစ်နှစ်အတွက် ငှါးရမ်းခ အဖြစ် ငွေ ၂၀၀၀ကျပ် (ကျပ် နှစ်ထောင် တိတိ) နှုန်းဖြင့် ခြောက်လအတွက် စုစုပေါင်း ကျပ် ၃၁၁၀၀၀ (ကျပ် သုံးသိန်း တစ်သောင်း တစ်ထောင်တိတိ)ကို ခြောက်လ တစ်ကြိမ် ကြိုတင် ပေးသွင်းရမည်။ ပထမဆုံး အကြိမ် ပေးချေမည့် ခြောက်လ အတွက် မြေငှါးရမ်းခကို မြေငှါးစာချုပ် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့် နေ့တွင် ပေးချေရမည်။ နောင် လာမည့် နှစ်များအတွက် ခြောက်လ တစ်ကြိမ် မြေငှါးရမ်းခကို ပထမ အကြိမ် မြေငှါးရမ်းခငွေ ပေးချေသည့် နေ့မှ ခြောက်လပြည့်မြောက်သည့် နေ့မတိုင်မီ တစ်လ ကြိုတင် ပေးချေရမည်။ ငှါးရမ်းသည့် ကာလအတွင်း ငှါးရမ်းခ နှုန်းများကို (၅)နှစ် တစ်ကြိမ် ၁၅%ထက် မပိုစေပဲ နှစ်ဦးနှစ်ဘက် ညှိနှိုင်းရမည်။

၉။ စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်သည် မြေနှင့်တကွ အဆောက်အဦများ၊ စိုက်ပျိုးထားသော နှစ်ရှည်ပင်များနှင့် အခြား ဆက်နွယ်သော ပစ္စည်းများ အားလုံးကို ကောင်းမွန်သော အနေအထားဖြင့် မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာနသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်း ပေးရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊

မီးဘေး အန္တရာယ် စသည်များ။ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက် ရမည်။

၁၃။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး
စာအမှတ်၊ ရကာ–၁/မ–၁၀၀/၉၇ (၂၀၁၉)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ဇန်နဝါရီလ ၂၁ရက်။

မိတ္တူကို–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၉။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၀။ လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၁။ မွေးမြူရေး နှင့် ရေ လုပ်ငန်း ဝန်ကြီးဌာန။
၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စိုက်ပျိုးရေး လုပ်ငန်း။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန။
၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၅။ မန်နေဂျင်း ဒါရိုက်တာ၊ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

၃၃၂၉၈

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912

Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၁၀၀/၉၇ (၂၁၄၄)

ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၂ ရက်။

အကြောင်းအရာ။ **လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။**

၁။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) မှ လုံးရယ်သီးများ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၁/၉၇) ကြိမ်မြောက် ကြိုတင်ညှိနှိုင်း အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ လုပ်ငန်းအတွက် မော်တော်ယာဉ်များ တင်သွင်းမှုနှင့်ပတ်သက်၍ တည်ဆောက်ရေး ကာလ အတွင်း Land Cruiser 1(one) No., Pick-up 1(one) No. and Van 1(one) No. တို့ကို အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Saloon 1(one) No. and Pick-up 1(one) No. တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကိုလိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့်မော်တော်ယာဉ်များ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )

တွဲဖက်အတွင်းရေးမှူး

အုပ်ချုပ်မှု ဒါရိုက်တာ

ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်။

မိတ္တူကို -

(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။

(၃) မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။

(၄) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။

(၅) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

(၆) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

(၇) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

(၈) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေး နှင့် ရေလုပ်ငန်း ညွှန်ကြားမှု ဦးစီးဌာန။

(၉) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန။

R-196
22-1-98

အစည်းအဝေးအမှတ်စဉ်-၁၆

အတွေ့ တွေ့အရပ်ရပ်-၁၆

( ရုံးတွင်း စာအကျဉ်း ချုပ်သို့တည်း မဟုတ်စာကြမ်း ရေးရန်အတွက် )

အကြောင်းအရာ။ ။ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှလုံးရယ်သီးများ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ ။

၁။ မြန်မာကုမ္ပဏီဖြစ်သော နိုင်ဖြိုး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Kai Phyo Construction Co., Ltd. ) သည် မွေးမြူရေး နှင့် ရေလုပ်ငန်းဝန်ကြီး ဌာန၊ မွေးမြူရေး နှင့်ကုသရေး ဦးစီး ဌာနပိုင်မန္တလေး တိုင်း၊ ပုသိမ်ကြီး မြို့နယ်၊ ရေမအင်း ၊ တိရစ္ဆာန်အစား အစာအသုံး ချရေး နည်းပြအခြေစိုက်စခန်း ရှိ မြေ ( ၃၁၁ ) ဧက ( ၁၂၅၀၅၇၃.၄ စတုရန်းမီတာ ) အား ၄ား ရမ်း ၍လုံးရယ်သီး များ စိုက်ပျိုး ထုတ်လုပ် ရောင်း ချခြင်း လုပ်ငန်း ကိုမြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြ ချက်အား ( ၂၆-၁၂-၉၇ ) နေ့တွင်ကျင်း ပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံ ရင်း နှီး မြှုပ်နှံမှု ကော်မရှင်၏ ( ၂၀/ ၉၇ ) ကြိမ် မြောက်အစည်း အဝေး သို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအား ဖြင့်သဘောတူညီခဲ့ပြီး အစိုး ရအဖွဲ့သို့ဆက်လက် တင်ပြရန်ဆုံး ဖြတ်ချက်နှင့်အညီ ( ၈-၁-၉၈ ) နေ့တွင်ကျင်း ပပြုလုပ်သည့်ပြည် ထောင်စု မြန်မာနိုင်ငံ တော်အစိုး ရအဖွဲ့၏ ( ၂/ ၉၈ ) ကြိမ် မြောက်အစည်း အဝေး သို့တင်ပြ ခဲ့ရာအစည်း အဝေး မှသဘောတူ ကြောင်း ဆုံး ဖြတ်ခဲ့ပါသည်။

၂/-

အတွေ့တွေ့အရပ်ရပ် - ၁၆

(ရုံးတွင်း စာအကျဉ်း ချုပ်သို့တည်း မဟုတ် စာကြမ်း ရေးရန်အတွက်)



၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ နှင့်ယင်း ဥပဒေဆိုင်ရာလုပ်ထုံး လုပ်နည်းများ အခန်း (၄)၊ အပိုဒ် ၁၂ တို့နှင့်အညီ ကိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Kai Phyo Construction Co.Ltd) သို့ထုတ်ပေးမည့် <u>ခွင့်ပြုမိန့်</u> တွင်လက်မှတ်ရေးထိုးနိုင်ပါရန်နှင့်ယင်း ခွင့်ပြုမိန့်ထုတ်ပေးမည့် <u>အမှာစာ (မူကြမ်း)</u> ကိုသဘောတူအတည်ပြုပေးနိုင်ပါရန်ပြုစုတင်ပြအမိန့်နာခံအပ်ပါသည်။

[illegible]

၂၃-၁-၉၀။

<u>အတွင်းရေးမှူး (ဝန်ကြီး)၊</u> [illegible] ၂၃/၁

Permit [illegible]

[illegible] ၂၃/၁

<u>ဥက္ကဋ္ဌ (ဒုတိယဝန်ကြီးချုပ်)၊</u>

[illegible] ၂၄/၁/၉၀

Permit [illegible]

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ်၊ ၇၈-၁/ မ-၈၂၆/၉၇(၁၇၇၂)။
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီ လ ၁ ရက်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့</u>
<u>တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ။ ။ <u>ခိုင်ဖြိုးဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှလုံးရယ်သီးများ စိုက်ပျိုးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြု တင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ခိုင်ဖြိုးဆောက်လုပ်ရေးကုမ္ပဏီ လီမိတက် - ( Kai Phyo Construction Co., Ltd. ) မှ လုံးရယ်သီးများ စိုက်ပျိုးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၆-၁၂-၉၇) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၉၇) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်းနှင့်အပင်ပေါက်များ ဝယ်ယူရန် Buy-Back စနစ်သဘောတူစာချုပ် (မူကြမ်း)၊ မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း) နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်များကို <u>နောက်ဆက်တွဲ (၁)</u> အဖြစ်ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၂၀) သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၅၁.၂၀) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၂၄၂.၀၀) သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၈.၀၀) သန်း၊ စက်ပစ္စည်း ကိရိယာတန်ဖိုး ကျပ် (၀.၇၄) သန်း [အမေရိကန်ဒေါ်လာ (၀.၁၂ သန်း)] နှင့်လုံး ရယ်ပင်ပေါက်များ ဝယ်ယူရန် ပြည်ပချေးငွေ ကျပ် (၀.၄၆) သန်း [အမေရိကန်ဒေါ်လာ (၀.၀၈) သန်း] ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ ငွေပမာဏ ကျပ် (၂၄၂.၀၀) သန်းတွင် ပြည်တွင်းချေးငွေ ကျပ် (၂၁၀) သန်း ပါဝင်ပါသည်။ ယင်းချေးငွေကို တစ်နှစ်လျှင် အတိုးနှုန်း (၁၈) ရာခိုင်နှုန်းဖြင့် ချေးယူမည်ဖြစ်ပြီး စက်ပစ္စည်းနှင့် အပင်ပေါက်များ ဝယ်ယူရန်အတွက် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၀.၂) သန်းကို ဟောင်ကောင် Hoi Tuen Trading Co., မှ Buy-Back စနစ်ဖြင့် ရယူမည်ဖြစ်ပါသည်။ ချေးငွေကို တစ်နှစ်လျှင် အတိုးနှုန်း ( SIBOR + 2 ) ရာခိုင်နှုန်းဖြင့် ဆိုင်းငံ့ကာလ (၂) နှစ်ဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။ အဆိုပါ ပြည်ပချေးငွေအတွက် အတိုးကို မူလုပ်ငန်း စတင်ဆောင်ရွက်ချိန်မှ စ၍ ပေးချေရမည် ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနပိုင် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ် ရေမအင်း၊ တိရစ္ဆာန်အစာ အစာအသုံးချရေး နည်းပြအခြေစိုက်စခန်း ရှိ မြေ (၃၁၁) ဧက (၁၂၅၈၅၅၄.၄ စတုရန်းမီတာ) ကို ငှားရမ်း၍ လုံးရယ်သီးများ စိုက်ပျိုးမည် ဖြစ်ပါသည်။

၄။ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနနှင့် ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် မြေငှားသဘောတူစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) မြေငှားရမ်းကာလမှာ (၂၅) နှစ်ဖြစ်ပြီး၊ နောက်ထပ် (၅) နှစ် (၂) ကြိမ် သက်တမ်းတိုး မြှင့်ခွင့်ရှိပါသည်။

(ခ) မြေငှားစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် မြေအသုံးချမှု ပေးငွေ ကျပ် (၃.၀၀) သန်းကို မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနသို့ ပေးသွင်းရမည် ဖြစ်ပါသည်။

(ဂ) နှစ်စဉ်မြေဩဇာ ရမ်း ခအဖြစ်တစ်ကေလျှင် တစ်နှစ်လျှင်ကျပ် (၂၀၀၀)နှုန်း ဖြင့်စုစုပေါင်း ကျပ်(၀.၆၂၂)သန်းကို (၆)လတစ်ကြိမ်ကြိုက်ပေး သွင်း ရမည်ဖြစ်ပါသည်။

(ဃ) စာချုပ်သက်တမ်း ကုန်ဆုံး သည့်အခါ ခိုင်ခံ့ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်သည် မြေနှင့်တကွအဆောက်အဦများ၊ စိုက်ပျိုး ထား သောနှစ်ရှည်ပင်များ နှင့်အခြား ဆက်နွယ် သော ပစ္စည်း များ အား လုံး ကို ကောင်း မွန် သော အနေအထား ဖြင့် မွေး မြူရေး နှင့်ကုသ ရေး ဦး စီး ဌာနသို့ အဖိုး စား နား မဲ့ ပြန်လည်လွှဲပြောင်း ပေး ရမည်ဖြစ်ပါသည်။

၅။ လုံး ရယ်သီးပင်ပေါက်များ ကို ထိုင်း နိုင်ငံမှ မှာယူတင်သွင်း ပြီး ၊ ဧက (၃၀၀)အတွက်အပင်ပေါင်း (၁၈၀၀၀) စိုက်ပျိုး မည်ဖြစ်ပါသည်။ အသီး သီး ရန်အတွက် (၅)နှစ် စောင့်ဆိုင်း ရမည်ဖြစ်ပါသည်။ အပင်သက်(၁၄)နှစ်နောက်ပိုင်း တွင် အသီး အတွက်နှုန်း ကျဆင်း သွား မည်ဖြစ်ပါသည်။ အပင်သက်(၉)နှစ်မှ(၁၄)နှစ်အတွင်း အပင်တစ်ပင်အသီး နှုန်း မှာ ကီလို(၈၀)မှ(၁၁၀)အထိဖြစ်ပါသည်။ ရောင်း ဈေး နှုန်း များ မှာပြည်တွင်း တွင်အသီး အစို(၆၀)ရာခိုင်နှုန်း ကို ကစ်ကီလိုလျှင်ကျပ်(၁၅၀) နှုန်း ဖြင့်လည်း ကောင်း ၊ ပြည်ပသို့အသီး အခြောက်(၄၀)ရာခိုင်နှုန်း ကို ကစ်ကီလိုလျှင် အမေရိကန် ဒေါ်လာ(၅.၉) ဒေါ်လာနှုန်း ဖြင့်လည်း ကောင်း ရောင်း ချမည်ဖြစ်ပါသည်။

၆။ လုံး ရယ်သီး များ အသီး သီး ရန် စောင့်ဆိုင်း နေစဉ်ကာလအတွင်းငှက်ပျော၊ ဇီး သီး စသည့် ငွေပေါ်သီး ပင်များ လည်း စိုက်ပျိုး မည်ဖြစ် ကြောင်း သိရှိရပါသည်။

၇။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့် ကုမ္ပဏီမှ ရရှိမည့်ဝင်ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | __ပြည်တွင်း__ | __နိုင်ငံခြား__ | __စုစုပေါင်း__ |
|---|---|---|---|
| (က) ဝင်ငွေ | ၁၆၂.၀၆ | ၈.၉၂ | ၁၇၀.၉၈ |
| (ခ) အသုံး စရိတ် | ၆၇.၃၈ | ၁.၃၄ | ၆၈.၇၂ |
| (ဂ) အသား တင်အမြတ် | ၉၄.၆၈ | ၇.၅၈ | ၁၀၂.၂၆ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၂၂ |
| (ကျပ်သန်း) | ၄၀.၁၀ |
| (ခ) မြေငှားရမ်းခရငွေ (ကျပ်သန်း) | ၀.၆၂ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၂၄) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ကတိဝန်ခံချက် ပေးထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ် အပါအဝင်တစ်ဆက်တည်း (၃) နှစ်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ အနက် လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ လုံးရယ်သီးများ စိုက်ပျိုးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစားခွင့်ပြုရန် သဘောတူ - မတူ။

၁၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအစ်ပါသည်။

[ ဗိုလ်မှူးချုပ်မောင်မောင် ]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေး
ကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



* ၅၃၀/၁၂/၉၇။

၂၁/၉၇ PUC
၂၆-၁၂-၉၇



| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိရှိရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၆။ | ကိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( Kai Phyo Construction Co.,Ltd) မှ လုံးရယ်သီး ပွားစိုက်ပျိုး ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။<br><br>ကော်မရှင်၏ ၂၃-၁၂-၉၇ ရက်စွဲပါစာအမှတ်၊ ရက-၆(ခ)/၀၂၆/၁၇(၁၇၀၀)။<br><br>ဌာနအတွင်းရေးမှူး ဦးမောင်မောင်ငြိက အမှာစါကို ဖွင့်လင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က ယခုအဆိုပြုလုပ်ငန်းမှာ မြေငှားရမ်းမှုစာချုပ်သည်နှင့် မြေငှားခကို နှစ်စဉ်ပေးသွင်းရမှာဖြစ်ကြောင်း ပြောကြားပါသည်။<br><br>မွေးမြူရေးနှင့်ကုသရေး ဝန်ကြီး ဦးတီးမှာ၏မှ သွက်ကြား ရေးမှူးချုပ်ဦးမောင်မောင်သွန်းက မြေငှားရမ်းခကို ပေး ရေးရာကွင်းဖလားစာကြွင်းကြောင်းပေး ရေးမှာဖြစ်ကြောင်းတင်ပြပါ သည်။<br><br>အတွင်းရေးမှူး ဦးမောင်မောင်ငြိက ပြည်ပမှ ချေးငွေကိုပြန်လည်ပေးဆပ်ရာမှာ လုံးရယ်သီး အခြောက်များကို ပြည်ပသို့ ၄၀ ရာခိုင်နှုန်း တင်ပို့ရောင်းချခြင်းမှ ပြန်လည်ပေးဆပ်မှာ ဖြစ်ပြီး အခွန်ကင်းလွတ်ခွင့်ကာလကို အသီးစတင်ထွက်ရှိမည့် (၅) နှစ် မြောက်မှစ၍ ခံစားခွင့်ပြုရန်ဖြစ်ကြောင်း တင်ပြပါသည်။<br><br>ဆုံးဖြတ်ချက်။<br><br>(၁) ကိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ လုံးရယ်သီး ပွားစိုက်ပျိုး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း | <br><br><br><br><br><br><br><br><br><br><br><br><br><br><br><br><br><br><br><br>အတွင်းရေးမှူး မွေးမြူရေး နှင့်ကုသရေး |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် / သိရှိရန် |
|---|---|---|
| ၁ | ၂ | ၃ |
| | ကိစ္စကို ကော်မရှင်မှ မူအားဖြင့်သဘောတူကြောင်း | ဦးစီးဌာန။ |
| | (၂) မြေငှားဝန်းခများကိုနှစ်စဉ်ပေးချေရာတွင် (၆) လတစ်ကြိမ်ကြောင်း ပေးချေရန်၊ | |
| | (၃) အထက်ပါအချက်ကိုပြန်လည်ပြင်ဆင်ပြီး ပါကအစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်၊ | |
| | (၄) လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြု ရန်၊ ဝင်ငွေခွန်ကင်းလွတ်ခွင့်ကိုအသီး စတင် ထွက်ရှိသည့်(၁) နှစ် ပြောက်ကာလမှစတင်ခံစား ခွင့်ပြုရန်၊ | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၈၂၆/၉၇(၁၇၀၈)၊
ရန်ကုန်၊ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ ၂၃ ရက်။

## အမှာစာ

အကြောင်းအရာ။ ။ ကိုင်ဖြိုးဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ လုံးရယ်သီးများ စိုက်ပျိုးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာ့ကုမ္ပဏီဖြစ်သော ကိုင်ဖြိုးဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Kai Phyo Construction Co.,Ltd. ) မှ လုံးရယ်သီးများ စိုက်ပျိုးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၉-၁၂-၉၇) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၉၇) ကြိမ်မြောက် ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့ တင်ပြခဲ့ရာ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး၊ မြေငှားရမ်းကာလကို ကနဦး (၂၅) နှစ်နှင့် နောက်ထပ် (၅) နှစ် (၂) ကြိမ် တိုးမြှင့်ခွင့်ပြုရန်နှင့်အထက်ပါအချက်ကို ညှိနှိုင်းပြီးပြန်လည်ပြင်ဆင် တင်ပြလာပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်းနှင့်အပင် ပေါက်များဝယ်ယူရန် Buy-back စနစ်သဘောတူ စာချုပ် (မူကြမ်း)၊ မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)၊ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများကို နောက်ဆက်တွဲ (၁) တွင် တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၂၀) သန်းအပါအဝင် စုစုပေါင်းကျပ် (၂၅၁.၂၀) သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၂၄၂.၀၀) သန်း၊ အဆောက်အဦတန်ဖိုးကျပ် (၈.၀၀) သန်း၊

စက်ပစ္စည်းကိရိယာတန်ဖိုးကျပ်(၀.၇၄)သန်း [အမေရိကန်ဒေါ်လာ(၀.၁၂သန်း)] နှင့်လုံးရယ်ပင် ပေါက်များဝယ်ယူရန် ပြည်ပချေးငွေကျပ်(၀.၄၆)သန်း [အမေရိကန်ဒေါ်လာ(၀.၀၈)သန်း] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ ငွေပမာဏကျပ်(၂၄၂.၀၀)သန်းတွင် ပြည်တွင်းချေးငွေကျပ်(၂၁၀)သန်းပါဝင်ပါသည်။ ယင်းချေးငွေကို တစ်နှစ်လျှင် အတိုးနှုန်း(၁၈)ရာခိုင်နှုန်းဖြင့် ချေးယူမည်ဖြစ်ပြီး စက်ပစ္စည်းနှင့်အပင် ပေါက်များဝယ်ယူရန်အတွက် နိုင်ငံခြားငွေအမေရိကန်ဒေါ်လာ(၀.၂)သန်းကို ဟောင်ကောင် Hoi Tuen Trading Co., မှ Buy-back စနစ်ဖြင့် ရယူမည်ဖြစ်ပါသည်။ ချေးငွေကို တစ်နှစ်လျှင် အတိုးနှုန်း (SIBOR+ 2 )ရာခိုင်နှုန်းဖြင့် ဆိုင်းငံ့ကာလ(၂)နှစ်ဖြင့်(၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ အဆိုပါ ပြည်ပချေးငွေအတွက် အတိုးကိုမူလုပ်ငန်းစတင်ဆောင်ရွက်ချိန်မှစ၍ ပေးချေရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနပိုင် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ် ရေမဆောင်း၊ တိရစ္ဆာန်အစားအစာအသုံးချရေးနည်းပြအခြေစိုက်စခန်းရှိ မြေ(၃၁၁)ဧက(၁၂၅၈၅၇၇.၄စတုရန်းမီတာ)ကို ငှားရမ်း၍ လုံးရယ်သီးများ စိုက်ပျိုးမည်ဖြစ်ပါသည်။

၄။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနနှင့် ခိုင်ဖြိုးဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် မြေငှားသဘောတူစာချုပ်ပါ အဓိကအချက်များ မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) မြေငှားရမ်းကာလမှာ(၂၅)နှစ်ဖြစ်ပြီး၊ နောက်ထပ်(၅)နှစ (၂)ကြိမ် သက်တမ်းတိုးမြှင့်ခွင့်ရှိပါသည်။

(ခ) မြေငှားစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် မြေအသုံးချမှုကြေး ငွေကျပ်(၃.၀၀)သန်းကို မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန သို့ ပေးသွင်းရမည်ဖြစ်ပါသည်။

(ဂ) နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်ဧကလျှင် တစ်နှစ်လျှင်ကျပ် (၂၀၀၀)နှုန်းဖြင့် စုစုပေါင်းကျပ်(၀.၆၂၂)သန်းကိုနှစ်စဉ် ပေးသွင်းရမည်ဖြစ်ပါသည်။

(ဃ) စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ နိုင်ငံခြားဆောက်လုပ်ရေးကုမ္ပဏီ လီမိတက်သည် မြေနှင့်တကွ အဆောက်အဦများ၊ စိုက်ပျိုးထားသော နှစ်ရှည်ပင်များနှင့်အခြားဆက်နွယ်သော ပစ္စည်းများအားလုံးကို ကောင်းမွန်သော အနေအထားဖြင့် မွေးမြူရေးနှင့်ကုသရေး ဦးစီးဌာနသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၅။ လုံးရယ်သီးပင်ပေါက်များကို ထိုင်းနိုင်ငံမှ မှာယူတင်သွင်းပြီး၊ ဧက၃၀၀အတွက် အပင်ပေါင်း(၁၈၀၀၀) စိုက်ပျိုးမည်ဖြစ်ပါသည်။ အသီးသီးရန် အတွက်(၅)နှစ် စောင့်ဆိုင်းရမည်ဖြစ်ပါသည်။ အပင်သက်(၁၄)နှစ်နောက်ပိုင်း တွင် အသီးအထွက်နှုန်းကျဆင်းသွားမည်ဖြစ်ပါသည်။ အပင်သက်(၉)နှစ်မှ(၁၄)နှစ် အတွင်း အပင်တစ်ပင်အသီးနှုန်းမှာ ကီလို(၈၀)မှ(၁၁၀)အထိ ဖြစ်ပါသည်။ ရောင်းဈေးနှုန်းများမှာ ပြည်တွင်းတွင် အသီးအစို(၆၀)ရာခိုင်နှုန်းကို တစ် ကီလိုလျှင်ကျပ်(၁၅၀)နှုန်းဖြင့်လည်းကောင်း၊ ပြည်ပသို့ အသီးအခြောက်(၄၀)ရာ ခိုင်နှုန်းကိုတစ်ကီလိုလျှင် အမေရိကန်ဒေါ်လာ(၅.၉)ဒေါ်လာနှုန်းဖြင့်လည်းကောင်း ရောင်းချမည်ဖြစ်ပါသည်။

၆။ လုံးရယ်သီးများအသီးသီးရန် စောင့်ဆိုင်းနေစဉ်ကာလအတွင်း၌ ငှက် ပျော၊ ဖီးသီး စသည့် ငွေပေါ်သီးပင်များလည်း စိုက်ပျိုးမည်ဖြစ် ကြောင်းသိရှိရပါသည်။

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၆၂.၀၆ | ၈.၉၂ | ၁၇၀.၉၈ |
| (ခ) အသုံးစရိတ် | ၆၇.၃၈ | ၁.၃၄ | ၆၈.၇၂ |
| (ဂ) အသားတင်အမြတ် | ၉၄.၆၈ | ၇.၅၈ | ၁၀၂.၂၆ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ရရှိမည့်အကျိုး အမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) ၀.၂၂
(ကျပ်သန်း) ၄၀.၅၀

(ခ) မြေငှားရမ်းခရငွေ (ကျပ်သန်း) ၀.၆၂

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၂၄) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း ကတိဝန်ခံချက် ပေးထားပါသည်။

၁၁။ ဤလုပ်ငန်းဆောင်ရွက်ရန် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားအဖြစ် ခိုင်ဖြိုး ကောက်ဆုပ်ရေးကုမ္ပဏီလီမိတက်၏ အာဝရှဲ့ဘဏ်ရှိ ဘဏ်စာရင်းများကို တင်ပြထားပါသည်။

၁၂။ ဤလုပ်ငန်းဆောင်ရွက်ရန်အတွက် မော်တော်ယာဉ်တင်သွင်းခွင့် နှင့်ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း 4 Wheel Drive ကား (၁) စီး၊ Dyna Pick-up (၁) စီးနှင့် Van (၁) စီးကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လိုကြောင်း၊ လုပ်ငန်းစတင် ဆောင်ရွက်ချိန်တွင် Saloon (၁) စီးနှင့် Dyna Pick-up (၁) စီးကို အခွန်အကောက် (၁၀) နှစ် ကင်းလွတ်ခွင့်ပြုရန်လိုကြောင်း တင်သွင်းခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၉၇) ကြိမ်မြောက် ကြိုတင်ညှိနှိုင်းအစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ ယင်းအပေါ် သုံးသပ်တင်ပြချက်ကို ပူးတွဲ တင်ပြထားပါသည်။

၁၄။ ဆုံးဖြတ်ရန်အချက်။

(က) ဗိုင်ကြီးဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ လုံးရယ်သီးများ စိုက်ပျိုးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) သဘောတူပါက အထက်အပိုဒ်(၁၃)ပါ အခွန်ကင်းလွတ်ခွင့်နှင့်ဆက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

အတွင်းရေးမှူး(ကိုယ်စား)
[ ဒေါ်ခင်မောင်ငို၊ ဒုတိယအတွင်းရေးမှူး ]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* ဗိန် ၂၃-၁၂-၉၇။

သို့၃က်

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှ ပြည်ပတင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ် ၅၀ ရာခိုင်နှုန်း ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်း အကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုး လုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလ အထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကို အကျိုးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။

သို့၄က်

- ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့်မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့် နှုန်းအတိုင်းဆ ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဈ)အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့်ပစ္စည်းများ၊ ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့် မှာ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၇၇/၉၆ အရ အကျုံးဝင်ပြီးဖြစ်ပါသည်။

ကဒ် ၈ ဏာန်းမှ (၄၅)ခု လက်ခံရရှိပါသည်



**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**ရန်ကုန်မြို့**

**စာအမှတ်။** ၁/၂၀၀(ည)/၁၀၀၀/၁၁၇၆
**ရက်စွဲ** ။ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ (၂၂) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း

ရည်ညွှန်းချက်။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၁၂-၁၁-၉၇ ရက်စွဲပါစာအမှတ်၊ ၁/၂၀၀(ည)/၁၀၀၀/၁၀၄၅

အထက်ရည်ညွှန်းပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့သော အဆိုပြုချက်မှ ပြန်လည်ပြင်ဆင်ရန်ရှိခြင်း ဂန္ဓိသောအချက်များအား ပြန်လည်ပြင်ဆင်မှုများပြုလုပ်ပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် အဆိုပြုလွှာ (၄၅) စုံ ပေးပို့အပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)
(သံဒိုင်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို-

၁။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ရေလုပ်ငန်းညွှန်ကြားမှုဦးစီးဌာန

၂။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

| | | |
|---|---|---|
| | - မြေအသုံးချမှုပေးငွေ | ကျပ်သိန်း (၃၀) ကိုစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနသို့ ပေးသွင်းရမည်ဖြစ်ပါသည်။ |
| | - နှစ်စဉ်မြေငှားရမ်းခ | တစ်ဧကလျှင်ကျပ် ၂၀၀၀ နှုန်းဖြင့် ၃၁၁ ဧက အတွက်ကျပ် ၀.၆၂၂ သိန်းကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် ပေးချေရမည်။ နောက်နှစ်များအတွက်ငှားရမ်းခကို ပထမနှစ်ငှားရမ်းခ ပေးချေသည့်နေ့မှစ၍ နှစ်ပြည့်မြောက်သည့်နေ့မတိုင်မီ တစ်လကြိုတင်ပေးချေရမည်ဖြစ်ပါသည်။ |
| ၇ | ထုတ်လုပ်မှု(ကီလို) | (၅)နှစ်မှ(၇)နှစ် (၈)နှစ်မှ(၁၄)နှစ် (၁၄)နှစ်နောက်ပိုင်း |
| | တစ်ပင်အသီးနှုန်း | ၂၀-၄၀ ၈၀-၁၀၀ ၈၀-၇၀ |
| ၈ | ရောင်းဈေးနှုန်း | |
| | -ပြည်တွင်း (၆၀%) (အသီးအစို) | ကျပ် ၁၅၀/ကီလို |
| | -ပြည်ပ (၄၀%) (အသီးအခြောက်) | US$ ၁.၉/ကီလို |
| ၉ | ဝင်ငွေ (၉နှစ်မြောက်) | |
| | -ကျပ် | ကျပ် ၁၂၉.၆၀သိန်း |
| | -နိုင်ငံခြားငွေ | US$ ၁.၁၉သိန်း |
| ၁၀ | အသားတင်မြတ် | |
| | -ကျပ် | ကျပ် ၇၀.၂၇သိန်း |
| | -နိုင်ငံခြားငွေ | US$ ၁.၀၁သိန်း |

| | | |
|---|---|---|
| ၁၁ | နိုင်ငံခြားမှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် | |
| | - ဝင်ငွေနှုန်း (ကျပ်) | ကျပ် ၃၀.၁၂ သန်း |
| | (US $) | US$ ၀.၁၁၀ သန်း |
| | - မြေငှား ငှားခရငွေ (ကျပ်) | ကျပ် ၀.၆၂ သန်း |
| ၁၂ | ဝန်ထမ်း (ပြည်တွင်း) | ၂၂၄ ဦး |
| ၁၃ | အခြား | - စက်ပစ္စည်းနှင့်ဂပင်ပေါက်များ ဝယ်ယူရန် နိုင်ငံခြားငွေ US$ (၀.၂)သန်း ကိုထောင် ကောင် Hoi Taen Trading Co., မှ Buy Back စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။ ချေးငွေကိုတန်နှစ်ချင်ကိုး နှုန်း (SIBOR + 2)% ဖြင့်ကိုင်း ငံ့ကာလ ၂ နှစ်ဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ အကိုး ကိုမူ ပုပ်ငန်း စတင်ဆောင်ရွက်ချိန်မှစ၍ ပေးချေရမည်ဖြစ်ပါသည်။<br>- စက်ပစ္စည်း စာရင်း တွင် Land Cruiser (၂) စီး၊ Dyna Pick-Up (၂) စီးနှင့် Insecticide Van .. (၁) စီး တို့ပါဝင်ပါသည်။<br>- လိုရယ်သီး ပင်ပေါက်များ ကိုထိုင်း နိုင်ငံမှမှာ ယူတင်သွင်း၍ ဧက ၃၀၀ အတွက်အပင်ပေါင်း ၁၀၀၀၀ စိုက်ပျိုးမည်ဖြစ်ပါသည်။ အသီး သီး ရန်အတွက် ၅ နှစ် စောင့်ဆိုင်း ရမည်ဖြစ်ပါသည်။ |

အပင်သက် ( ၁၄ ) နှစ်နောက်ပိုင်း ထွင်းသီး ထွက်နှုန်း ကျဆင်းသွားမည်ဖြစ်ပါသည်။

- လိုဂယ်သီးများ အသီးသီး ဂန်စောင့်ကိုင်းနေ ရာဥ်ကာလအတွင်း ငှက်ပျော၊ အိုးသီး ပေသည့်ငွေ ပေါ်ပေါ်း ပင်များ သက်း ဆိုက်ပျိုး မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

- နှစ်ရှည်သီး ပင်ဖြစ်၍ ငွေပေါ် ဂန်အနက်း ဆုံး ၅နှစ် စောင့်ကိုင်း ဂုဏ်သော ကြောင့်သီး နှံထွက်ရှိပြီး နှစ်မှ ( ၃ ) နှစ်ကာလကြက် ဒွန်ကင်း ထွက်ခွင့် ကာလသတ်မှတ် ပေး ဂန်လာ်း ကောင်း ခံထား ပါသည်။

- ပြည်လုပ်ငန်း သည်မြန်မာနိုင်ငံများ သာ၍ပိုင် ပိုင် သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြား မှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း ကတိဝန်ခံချက် ပေး ထား ပါသည်။

- စာချုပ်သက်တမ်း ကုန်ဆုံး သည့်အခါဆိုင်ပြီး ကုမ္ပဏီ လီမိတက်သည် မြေနှင့်ကတ္တရာ စာချက်အဦများ ၊ စိုက်ပျိုး ထား သောနှစ်ရှည်ပင်များ နှင့်အခြား ဆက်နွယ် သောပစ္စည်း များ အား လုံး ကိုကောင်း မွန် သော အနေအထား ဖြင့် ပေး ပြုရေး နှင့် ကုသ ရေး ဦး စီး ဌာနသို့ ဖိုး ဝေး နား မဲ့ ပြန်လည်လွှဲ ပြောင်း ပေး ရမည်ဖြစ်ပါသည်။

- ပြည်တွင်း ချေးငွေ ကျပ် ၂၁၀သန်း ကိုလုပ်ငန်း စာရင်း အကောင်အထည်ဖော်သည့်နှစ်တွင်ကျပ်(၁၀)သန်း နှင့် ဒုတိယ၊ တတိယ၊ စတုတ္ထနှင့်ပဉ္စမနှစ်များ ကိုကျပ်သန်း(၅၀) စီ ချေးယူမည်ဖြစ်ပါသည်။ အတိုးနှုန်း မှာ တစ်နှစ်လျှင် ၁၀ % ဖြစ်ပါသည်။

-



**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**ရန်ကုန်မြို့**

**စာအမှတ်၊** ၁/ ၂၀၀ (ည) / ၁၀၀၀ / ၁၀၄၅
**ရက်စွဲ** ။ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၁၂ ရက်

အကြောင်းအရာ။ ဌာနပိုင် မြေငှား ရမ်း၍ နှစ်ရှည်သီးနှံပင်များ စိုက်ပျိုးခွင့်ပြုပါရန်တင်ပြခြင်း

ရည်ညွှန်းချက်။ (၁) မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၃၁-၁၀-၉၇)ရက်စွဲပါစာအမှတ်၊ ၁/၂၀၀ (ည)/၁၀၀၀/၉၉၇

(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၁၂-၁၁-၉၇)ရက်စွဲပါစာအမှတ်၊ မက (အုပ်ချုပ်မှု-၁) ပထ-၂/ ၉၇ (၁၁၄၀၉)

၁။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနပိုင်၊ မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ် ရှိစားကျက်မြေထဲမှ မြေလွတ် (၃၁၁) ဧကကိုသရက်ပင်၊ လိမ္မော်ပင်နှင့်လိုက်ပင်စသည့်နှစ်ရှည်သီးနှံပင်များ စိုက်ပျိုးခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက်၊ မြေတစ်ဧကလျှင်တစ်နှစ် ကျပ် (၂၀၀၀) နှုန်းဖြင့်အနှစ် (၂၀) ငှားရမ်းရန်စာချုပ်မူကြမ်းကိုပြည်ထောင်စုမြန်မာနိုင်ငံတော် ရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်အတူရည်ညွှန်း (၁) စာဖြင့်ပူးတွဲတင်ပြခဲ့ပါသည်။

၂။ အထက်ပါလုပ်ငန်းအား၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ထပ်မံစိစစ်နိုင်ရန်အတွက်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်း(၂) စာဖြင့်တင်ပြလာသည့်အမှုတွဲနှင့်အဆိုပြုလွှာ (၁၅) စောင်ကိုဆက်လက်တင်ပြအပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)
( အေးအေးမြိုင် ၊ ညွှန်ကြားရေးမှူး )

အတွင်းရေးမှူး ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို- (၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ရေလုပ်ငန်းညွှန်ကြားမှုဦးစီးဌာန
(၂) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန (မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အသေးစိတ်ရှင်းလင်းတင်ပြနိုင်ရန်အတွက်ကြိုတင်စီစဉ်နိုင်ရန် ပေးပို့ပါသည်။ )
(၃) ရုံးလက်ခံစာတွဲ (၄) မျှောစာတွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁/၂၀၀(ည)/၁၀၀၀/၉၉၇
ရက်စွဲ ၊ ၁၉၉၇ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

အကြောင်းအရာ။ မွေးမြူရေးနှင့်ကုသရေး ဦးစီးဌာနပိုင် မြေလွတ်(၃၁၁) ကေကိုငှားရမ်းခွင့်ပြုပါရန်တင်ပြခြင်း

ရည်ညွှန်းချက်။ (၁) Kai Phyo Construction Co , Ltd ၏ (၃၀-၄-၉၇) ရက်စွဲပါစာအမှတ်၊ ၁၀၃/စဖ/၉.၇
(၂) ပြည်ထောင်စုမြန်မာနိုင်ငံတော် ရွှေနေချုပ်ရုံး ၏ (၃၁-၇-၉၇) ရက်စွဲပါစာအမှတ်၊ ၂(၄)၁/၁၂ -၁၄၆(၄၂၁)
(၃) မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ဝန်ကြီးရုံး ၏(၂၄-၁၀-၉၇) ရက်စွဲပါစာအမှတ်၊ ၂/၂၃၀ (ခ)/(၆၂၆/၉၇)

၁။ မန္တလေးတိုင်း၊ ပုသိမ်ကြီး မြို့နယ်ရှိ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေး ဦးစီးဌာနပိုင်စားကျက်မြေ၊ မြေလွတ်ကေ(၃၁၁) ကေကို၊ သရက်ပင်၊ လမွှော်ပင်နှင့်လိုက်ပင်စသည့်နှစ်ရှည်ပင်များ စိုက်ပျိုးရန်အတွက် ငှားရမ်းလိုပါကြောင်း Kai Phyo Construction Co , Ltd ၏အဆိုပြုလွှာအား ၊ မွေးမြူရေးနှင့်ကုသရေး ဦးစီးဌာနမှထပ်ဆင့်တင်ပြလာပါသည်။

၂။ မြေလွတ်ကေ(၃၁၁) ကေငှားရမ်းလိုခြင်းနှင့်ပတ်သက်၍၊ အဆိုပြုလွှာပါ အဓိကအချက်အလက်များကို အောက်ပါအတိုင်း ကောက်နုတ်တင်ပြအပ်ပါသည်။

| |
|---|
| ရက်စွဲ ........ ... |
| **ဝင်စာတင်ပြခြင်း** |
| ဝန်ကြီး........ 20/11 |
| ညွှန်ချုပ်........ |
| ဒုညွှန်ချုပ်........ |
| ........ |

၂/-

(က) မြေငှားရမ်းမည့်ကုမ္ပဏီအမည်။ Kai Phyo Construction Co, Ltd.

(ခ) ကုမ္ပဏီအမျိုးအစား။ မြန်မာ့တိုင်းရင်းသားပိုင်ကုမ္ပဏီ

(ဂ) ငှားရမ်းလိုသည့်မြေတည်နေရာ/အကျယ်အဝန်း။ မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်ရှိ မွေးမြူရေးနှင့်ကုသရေး ဦးစီးဌာနပိုင်စားကျက်မြေမှ မြေကွက်(၃၁၁) ဧက( မြေပုံပူးတွဲ)

(ဃ) အသုံးပြုတင်ပြသည့်မြေငှားရမ်းခနှုန်းထား။ တစ်နှစ်၊တစ်ဧကလျှင်ကျပ်(၂၀၀၀) နှုန်းတိတိ။

(င) ငှားရမ်းလိုသည့်ကာလ။ နှစ်(၂၀)၊ တိုးမြှင့်(၅) နှစ်၊ (၃)ကြိမ်

(စ) ငှားရမ်းခပေးချေမည့်စနစ်။ ပထမနှစ်အတွက်ငှားရမ်းခကိုနှစ်ဖက်အဖွဲ့အစည်းမှ မြေငှားရမ်းစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် ပေးချေရမည်ဖြစ်ပါသည်။ နောင်နှစ်များအတွက် ပထမအကြိမ် မြေငှားရမ်းခပေးချေသည့်နေ့မှတစ်နှစ်ပြည့်မြောက်သည့်နေ့မတိုင်မီ၊ တစ်လကြိုတင်ပေးချေမည်ဖြစ်ပါသည်။

(ဆ) ငှားရမ်းမြေပေါ်တွင်ဆောင်ရွက်မည့်လုပ်ငန်း။ သရက်ပင် လိမ္မော်ပင်နှင့်လိုဂံပင်စသည့်နှစ်ရှည်ပင်များ စိုက်ပျိုးခြင်းလုပ်ငန်း

(ဇ) ငှားရမ်းခနှုန်းထားပြန်လည်သုံးသပ်ညှိနှိုင်းမည့်အစီအစဉ်။
ငှားရမ်းကာလ(၅)နှစ်လျှင်တစ်ကြိမ်ပြန်လည်သုံးသပ်ညှိနှိုင်းသတ်မှတ်ရန်

(ဈ) Signature Bonus အဖြစ်ပေးသွင်းမည့်ပမာဏ။
ကျပ်သိန်း (၃၀)

(ည) Signature Bonus ပေးသွင်းမည့်နေ့။ နှစ်ဖက်အဖွဲ့အစည်းမှ မြေငှားစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် ပေးသွင်းမည်ဖြစ်ပါသည်။

(၄) <u>ပိုင်ဆိုင်မှုလွှဲပြောင်းမည့်အစီအစဉ်</u>။ စာချုပ်ပျက်ပြယ်ခြင်း၊ ရုပ်စဲခြင်း ဖြစ်သည့်အခါ၊ ရက်ပေါင်း (၃၀) အတွင်း Kai Phyo Construction Co, Ltd သည်၊ အငှားချထားသော မြေနှင့် မြေပေါ်ရှိ ဆောက်လုပ်ထားသော အဆောက်အအုံများ၊ စိုက်ပျိုးထားသော နှစ်ရှည်ပင်များ နှင့်အခြား ဆက်နွယ်သော ပစ္စည်းများ အားလုံးကို၊ ကောင်းမွန်သော အနေအထားဖြင့် မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနသို့၊ အဖိုးစားနားမဲ့ဖြင့်ပြန်လည် လွှဲပြောင်းပေးရန်ဖြစ်ပါသည်။

၃။ မွေးမြူရေးနှင့်ကုသရေး ဦးစီးဌာနပိုင်၊ မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်ရှိ၊ စားကျက်မြေလွတ်ဧက (၃၁၁) ဧကကိုငှားရမ်းခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများ ရရှိနိုင်မည်ဖြစ်ပါသည်-

(က) နိုင်ငံတော်အနေဖြင့် မြေလွတ်မြေရိုင်းမှ မြေငှားရမ်းခ အဖြစ် တစ်နှစ်လျှင်ကျပ် (၆.၂၂) သိန်းကိုအသားတင်ရရှိမည်ဖြစ်ခြင်း၊

(ခ) နှစ်ရှည်ပင်များ စိုက်ပျိုးခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြစ်သဖြင့် ပတ်ဝန်းကျင်စိမ်းလန်းစိုပြေရေး ကိုတစ်နည်းတစ်ဖုံအထောက် အကူပြုရာ ရောက်ခြင်း ၊

(ဂ) စားသုံးပင်များ ဖြစ်သည့်သရက်၊ လိမ္မော်၊ လုံဂံပင်များ စသည့် နှစ်ရှည်ပင်များ စိုက်ပျိုးသည့်အတွက်၊ ဒေသတွင်း သီးနှံထွက်နှုန်းတိုး တက်မြင့်မားစေရုံသာမက၊ စားသောက်ကုန်ဈေးနှုန်းကိုလည်း တည်ငြိမ်မှုရှိရန်အထောက်အကူပြုခြင်း ၊

(ဃ) နှစ်ရှည်သီးပင်မှသစ်သီးများ ပေါ်များစွာထွက်ရှိစေခြင်း ဖြင့် ဒေသတွင်း နေထိုင်သည့်တိုင်းရင်းသားပြည်သူအများ ကျန်းမာစွာ နေထိုင်ရေး ကိုတစ်ဖက်တစ်လမ်း မှအထောက်အကူပြုရာ ရောက်ခြင်း

(င) ဒေသတွင်း ရှိတိုင်းရင်းသားပြည်သူများ အတွက်အလုပ်အကိုင်အခွင့် အလမ်းများ ပိုမိုပေါ်ထွန်းလာမည်ဖြစ်ရာ၊ ဒေသတွင်း ပြည်သူ လူထု၏လူနေမှုဘဝအဆင့်၊ စီးပွားရေး အဆင့်မြင့်မားလာပြီး ၊

ဒေသတွင်း ဖွံ့ဖြိုး တိုးတက်လာခြင်း ဖြင့်၊ နိုင်ငံတွင်း အေး ချမ်း တည်ငြိမ်မှုကိုတစ်ဖက်တစ်လမ်း မှအထောက်အကူပြု စေမည်ဖြစ်ခြင်း

၄။ မြေငှား ရမ်း ခြင်း နှင့်ပတ်သက်၍၊ နှစ်ဖက်အဖွဲ့အစည်း မှ ချုပ်ဆိုမည့် စာချုပ် ( မူကြမ်း ) ကို၊ ရည်ညွှန်း ( ၂ ) ပါနိုင်ငံတော် ရှေ့နေချုပ် ရုံး ၏သဘောထား မှတ်ချက်နှင့်အညီပြင်ဆင် ရေး ဆွဲတင်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ Kai Phyo Construction Co ,Ltd အား ၊ မန္တလေး တိုင်း ၊ ပုသိမ်ကြီး မြို့နယ်ရှိ၊ မွေး မြူရေးနှင့်ကုသ ရေး ဦး စီး ဌာနပိုင် စား ကျက် မြေလွတ်ဧက ( ၃၁၁ ) ဧကကို၊ နှစ်ရှည်သီး နှံပင်များ စိုက်ပျိုး ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက်ငှား ရမ်း ခွင့်ပြုပါရန်တင်ပြအပ်ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )
( သံဒိုင်၊ သွန်ကြား ရေး မှူး )

မြန်မာနိုင်ငံ ရင်း နှီး မြှုပ်နှံမှုကော်မရှင်ရုံး

မိတ္တူ ကို - ( ၁ ) သွန်ကြား ရေး မှူး ချုပ်၊ မွေး မြူရေးနှင့်ရေလုပ်ငန်း သွန်ကြား မှူးဦး စီး ဌာန
( ၂ ) သွန်ကြား ရေး မှူး ချုပ်၊ မွေး မြူရေးနှင့်ကုသ ရေးဦးစီးဌာန
( ၃ ) ရုံး လက်ခံစာတွဲ
( ၄ ) မျှောစာတွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရွှေနေရှု :

စာအမှတ်၊ ၂(၄)၁/၁၂-၁၄၆(၄၂၁)

ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဇူလိုင်လ (၂၁) ရက်

အကြောင်းအရာ။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနနှင့် KAI PHYO Construction Co, Ltd. တို့အကြားချုပ်ဆိုသောမြေငှားစာချုပ်(မူကြမ်း)အပေါ်စိစစ်ပေးရန်ကိစ္စ

ရည်ညွှန်းချက်။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ ၂၁-၆-၉၇ ရက်စွဲပါစာအမှတ်-မက(ဒုဝ်ချုပ်မှု-၁)ပထ-/၉၇(၆၁၀၉)

၁။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနနှင့် KAI PHO Construction Co, Ltd တို့အကြား ချုပ်ဆိုသောမြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)အပေါ်စိစစ်ပေးပါရန် ရည်ညွှန်းစာဖြင့် မေးမြန်းလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းစာနှင့်အတူပူးတွဲပေးပို့လာသောမြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)အား စိစစ်သုံးသပ်၍ အောက်ပါအတိုင်းအကြံပြုပါသည် -

(က) စာချုပ်ကိုစာချုပ်ဝင်တစ်ဖက်စီမှကိုယ်စားပြုသူတစ်ဦးပါဝင်လက်မှတ်ရေးထိုးပြီကျလောက်ပါသဖြင့် Parties နှင့်လက်မှတ်ရေးထိုးမည့်စာပိုဒ်တို့တွင်လိုအပ်သလိုပြင်ဆင်ပယ်ဖျက်ပေးထားပါသည်၊

(ခ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉အရအစိုးရ၏အထူးခွင့်ပြုချက်မရရှိသေးလျှင် မြေငှားစာချုပ်ပေါ်တွင်တည်သည့်တံဆိပ်ခေါင်းအက်ဥပဒေအရတစ်နှစ်လုံးပျမ်းမျှငှားရမ်းခ၏ ၅% နှင့်ညီမျှသောတံဆိပ်ခေါင်းခွန်ကို မြေငှားချထားခြင်းခံရသူကထမ်းဆောင်

